Shu San Industry Company Limited(ရှုစန် စက်မှုလက်မှုထုတ်လုပ်ရေးကုမ္ပဏီ လီမိတက်) မှ တင်ပြသည့် အဆိုပြုလွှာနှင့်စပ်လျဉ်း၍ လုပ်ငန်းဆောင်ရွက်မှုမှတ်တမ်း

| စဉ် | ဆောင်ရွက်သည့်အကြောင်းအရာ | ဆောင်ရွက်သည့်ရက်စွဲ | အကြောင်းပြန်ကြားသည့်ရက်စွဲ/ ကုမ္ပဏီမှတင်ပြသည့်ရက်စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုချက်တင်ပြလာခြင်း | | ၅-၆-၂၀၁၉ | |
| | လုပ်ငန်းလိုအပ်ချက်အရသက်ဆိုင်ရာဝန်ကြီးဌာနများသို့သဘောထားတောင်းခံခြင်း<br>- ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ရုံး<br>- ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန<br>- ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန(One Stop Service) | <br><br>၁၃-၈-၂၀၁၉<br>၂-၈-၂၀၁၉<br>၁၄-၆-၂၀၁၉ | <br><br>၂၃-၉-၂၀၁၉<br>၁၉-၈-၂၀၁၉<br>၂၆-၆-၂၀၁၉ | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့ အစည်းအဝေးသို့တင်ပြခြင်း | ၂၀/၂၀၁၉<br>(၁၀-၆-၂၀၁၉) | | |
| ၄ | အဆိုပြုချက်အပေါ်ပြင်ဆင်တင်ပြရမည့်အချက်များအကြောင်းကြားခြင်း | ၁၈-၆-၂၀၁၉ | ၃၀-၉-၂၀၁၉ | PAT ဆုံးဖြတ်ချက်အကြောင်းကြားပါသည်။ |
| ၅ | အဆိုပြုချက် ပြန်လည်ပေးပို့ခြင်း | ၂၁-၈-၂၀၁၉ | | |
| | ကြာမြင့်ရက် | (၅၄) ရက် | | |
| ၆ | ကုမ္ပဏီမှ အဆိုပြုချက်အား ပြင်ဆင်တင်ပြခြင်း | ၂၈-၁၁-၂၀၁၉ | | |
| ၇ | မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် အစည်းအဝေးသို့ တင်ပြခြင်း | (၁/၂၀၂၀)<br>၁၀-၁-၂၀၂၀ | | |
| | ကြာမြင့်ရက် | (၂၇) ရက် | | |

အကြောင်းအရာ။ ရခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Shu San Industry Company Limited (ရှုစန် စက်မှုလက်မှုထုတ်လုပ်ရေးကုမ္ပဏီ လီမိတက်) မှ ဆန်ကြိတ်ခွဲထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာ တင်ပြလာခြင်းကိစ္စ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည် | - Shu San Industry Company Limited (ရှုစန် စက်မှုလက်မှုထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်) |
| | ရင်းနှီးမြှုပ်နှံသူ | - ဦးစန်ဝင်း (ခ) ရှုစန် |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဍာန် | - ရခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - ဆန်ကြိတ်ခွဲထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ဦးပိုင်အမှတ်-၄/က၊ ကွင်းအမှတ်- ၂၉၂-A၊ ကုလားမှိုင်းမြောက်ကွင်း၊ ဝါးတရာကျေးရွာအုပ်စု၊ ထန်းတပင်မြို့နယ်၊ မြောက်ပိုင်းခရိုင်၊ ရန်ကုန်တိုင်းဒေသကြီး |
| ၃။ | မြေပိုင်ရှင် | - ဦးစန်ဝင်း (ခ) ရှုစန် |
| | မြေအကျယ်အဝန်း | စုစုပေါင်း ၅.၁၃ ဧက |
| ၄။ | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၅။ | စုစုပေါင်းမတည်ငွေရင်းပမာဏ | - ကျပ် ၁၀၈၁၁.၅၆ သန်း (US$ ၄.၈၅၁ သန်း အပါအဝင်) |

| | US$/သန်း | ကျပ်/သန်း | စုစုပေါင်း (ကျပ်/သန်း) |
|---|---|---|---|
| ငွေသား | | ၃၀၀.၀၀၀ | ၃၀၀.၀၀၀ |
| စက်ပစ္စည်း (ပြည်ပ) | ၃.၇၂၇ | | ၅,၇၆၇.၄၅၀ |
| အဆောက်အအုံသုံး ပစ္စည်း(ပြည်ပ) | ၀.၅၁၂ | | ၇၉၀.၀၄၂ |
| အဆောက်အအုံသုံး ပစ္စည်း(ပြည်တွင်း) | | ၁,၇၉၅.၈၁၄ | ၁,၇၉၅.၈၁၄ |
| ဆိပ်ကမ်းဆောက်လုပ်ရေးသုံးပစ္စည်း (ပြည်ပ) | ၀.၀၄၈ | | ၇၄.၉၄၄ |
| ဆိပ်ကမ်းဆောက်လုပ်ရေးသုံးပစ္စည်း (ပြည်တွင်း) | | ၁၉၈.၀၂၉ | ၁၉၈.၀၂၉ |
| လုပ်ငန်းသုံးရေယာဉ် | ၀.၅၆၃ | | ၈၆၈.၂၀၆ |
| ရုံးအဆောက်အဦနှင့် ပရိဘောဂ (ပြည်တွင်း) | | ၁၁.၀၇၅ | ၁၁.၀၇၅ |
| မြေ | | ၁,၀၂၆.၀၀၀ | ၁၀၂၆.၀၀၀ |
| စုစုပေါင်း | ၄.၈၅၁ | ၃,၃၃၀.၉၁၈ | ၁၀,၈၁၁.၅၆၁ |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းခန့်ထားမှု<br>ပြည်တွင်း | - ၁၈၈ ဦး<br>- ၁၈၈ ဦး (ပြည်တွင်း ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။ |
| ၇။ | နှစ်စဉ်ထုတ်လုပ်မှု (ပထမနှစ်) | ပြည်တွင်းရောင်း၊ ပြည်ပတင်ပို့ |
| ၈။ | အခြားတင်ပြချက် | - မြေပိုင်ရှင် ဦးစန့်ဝင်း ၏ မြေပိုင်ဆိုင်မှု အထောက်အထားများ တင်ပြထားပါသည်။<br>- မြေပိုင်ရှင် ဦးစန့်ဝင်းပိုင်ဆိုင်သော မြေအား ရင်းနှီးမြှုပ်နှံမှုတွင် ထည့်ဝင်မှုအား သဘောတူညီကြောင်း ဆုံးဖြတ်ထားသည့် ဒါရိုက်တာအဖွဲ့အစည်းအဝေးဆုံးဖြတ်ချက်တင်ပြထားပါသည်။<br>- လုပ်ငန်းဆောင်ရွက်မည့်မြေ၏ လယ်ယာမြေအား အခြားနည်းဖြင့် အသုံးပြုရန်ခွင့်ပြုမိန့် နှင့် ထန်းတပင်မြို့နယ်၊ အထွေထွေအုပ်ချုပ်ရေးမှူးရုံးသို့ စက်မှုဇရပ် လျှောက်ထားစာအား တင်ပြထားပါသည်။<br>- လုပ်ငန်းအတွက် အသုံးပြုရန် ဆိပ်ခံတံတား တည်ဆောက်ခွင့်အား ရန်ကုန်တိုင်း ဒေသကြီးဦးစီးမှူးရုံး၊ ရေအရင်းအမြစ်နှင့် မြစ်ချောင်းများ ဖွံ့ဖြိုးတိုးတက်ရေး ဦးစီးဌာနသို့ လျှောက်ထားစာ မိတ္တူ တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် တည်နေရာတွင် ဆိပ်ခံတံတားတစ်ခု တည်ဆောက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင် ဦးစန့်ဝင်းအမည်ဖြင့် ရရှိထားသော သင်္ဘောကျင်း တည်ဆောက်ခြင်းနှင့် သင်္ဘော ကမ်းထိုးခြင်း လုပ်ငန်း လိုင်စင်တင်ပြထားပါသည်။ |

| စဉ် အမျိုးအစား | ပြည်တွင်းရောင်း အရေအတွက် (Bag) | ပြည်တွင်းရောင်း ရောင်းဈေးနှုန်း (ကျပ်/Bag) | ပြည်ပတင်ပို့ အရေအတွက် (Bag) | ပြည်ပတင်ပို့ ရောင်းဈေးနှုန်း (US$/ Bag) |
|---|---|---|---|---|
| (က) ဆန်ဖြူ | - | - | ၅၇၆,၀၀၀ | ၂၀ |
| (ခ) ခါးပိုင်းကျိုး | ၁၆၈,၀၀၀ | ၁၉,၀၀၀ | - | - |
| (ဂ) ၁-၂ ဆန်လပ် | ၄၈,၀၀၀ | ၁၆,၃၀၀ | - | - |
| (ဃ) ၂.၃.၄ ဆန်ကွဲ | ၁၂,၀၀၀ | ၁၆,၀၀၀ | - | - |
| (င) ဖွဲဆန်ကွဲ | ၁၂,၀၀၀ | ၁၆,၆၀၀ | - | - |
| (စ) ဖွဲနု | ၈၀,၀၀၀ | ၆,၉၀၀ | - | - |

| | | |
|---|---|---|
| | | - ငွေကြေးအထောက်အထားအဖြစ် Shu San Industry Co., Ltd. အမည်ဖြင့် မြန်မာနိုင်ငံရှိ KBZ Bank တွင် ၃၀-၁-၂၀၁၉ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၀.၅၀၀ သန်းနှင့် ၃၀-၄-၂၀၁၉ ရက်စွဲဖြင့် ကျပ်ငွေ ၆,၅၆၁,၁၉၅,၇၇၉.၆၄ ကျပ်ရှိကြောင်း အထောက်အထား တင်ပြ ထားပါသည်။<br>- ဆန်စက် ကြိတ်ခွဲထုတ်လုပ်ပုံ လုပ်ငန်းအဆင့်ဆင့် တင်ပြ ထားပါသည်။<br>- ကုန်ကြမ်းရရှိမှုအခြေအနေနှင့် သိုလှောင်ထားရှိမည့် အစီအစဉ်များ တင်ပြထားပါသည်။<br>- Shu San Industry Co., Ltd. တို့၏ ကုမ္ပဏီမှတ်ပုံတင် လက်မှတ် တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူများ တင်ပြထား ပါသည်။<br>- စက်ရုံတည်နေရာပြမြေပုံ၊ စက်ရုံ Layout Plan နှင့် ဆိပ်ခံ တံတား တည်ဆောက်မည့် Layout Plan တို့ကို တင်ပြ ထားပါသည်။ |
| ၉။ | စိစစ်တင်ပြချက် | - ဝန်ထမ်းသက်သာချောင်ချိရေး အစီအမံ၊ မီးဘေး ကာကွယ် ရေး ဆောင်ရွက်ချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်း ကာကွယ်ရေး အစီအစဉ်၊ CSR အစီအစဉ် တို့ကို တင်ပြထားပါသည်။<br>- အမေရိကန်ဒေါ်လာ ၀.၅၆၃ သန်းတန်ဖိုးရှိ လုပ်ငန်သုံး Ship နှင့် Barge များ တင်သွင်းမည်ဟုတင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၇ ခုနှစ် ဧပြီလ ၁ ရက်နေ့စွဲပါ အမိန့်ကြော်ငြာစာ ၁၃/၂၀၁၇ အရ ဦးစားပေး မြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍ တွင်ပါဝင်ပြီး ISIC 1061 တွင်ပါဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ရန်ကုန်တိုင်းဒေသကြီး၊ ထန်းတပင် မြို့နယ်တွင် ဆောင်ရွက်မည်ဖြစ်၍ ဖွံ့ဖြိုးတိုးတက်မှု ဇုန်(၃) တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

| | | |
|---|---|---|
| ၉။ | စိစစ်တင်ပြချက် | - ငွေကြေးအထောက်အထားအဖြစ် Shu San Industry Co., Ltd. အမည်ဖြင့် မြန်မာနိုင်ငံရှိ KBZ Bank တွင် ၃၀-၁-၂၀၁၉ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၀.၅၀၀ သန်းနှင့် ၃၀-၄-၂၀၁၉ ရက်စွဲဖြင့် ကျပ်ငွေ ၆,၅၆၁,၁၉၅,၇၇၉.၆၄ ကျပ်ရှိကြောင်း အထောက်အထား တင်ပြထားပါသည်။<br>- ဆန်စက် ကြိတ်ခွဲထုတ်လုပ်ပုံ လုပ်ငန်းအဆင့်ဆင့် တင်ပြထားပါသည်။<br>- ကုန်ကြမ်းရရှိမှုအခြေအနေနှင့် သိုလှောင်ထားရှိမည့် အစီအစဉ်များ တင်ပြထားပါသည်။<br>- Shu San Industry Co., Ltd. တို့၏ ကုမ္ပဏီမှတ်ပုံတင်လက်မှတ် တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူများ တင်ပြထားပါသည်။<br>- စက်ရုံတည်နေရာပြမြေပုံ၊ စက်ရုံ Layout Plan နှင့် ဆိပ်ခံတံတား တည်ဆောက်မည့် Layout Plan တို့ကို တင်ပြထားပါသည်။<br>- ဝန်ထမ်းသက်သာချောင်ချိရေး အစီအမံ၊ မီးဘေး ကာကွယ်ရေး ဆောင်ရွက်ချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်း ကာကွယ်ရေး အစီအစဉ်၊ CSR အစီအစဉ် တို့ကို တင်ပြထားပါသည်။<br>- အမေရိကန်ဒေါ်လာ ၀.၅၆၃ သန်းတန်ဖိုးရှိ လုပ်ငန်းသုံး Ship နှင့် Barge များ တင်သွင်းမည်ဟုတင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ၂၀၁၇ ခုနှစ် ဧပြီလ ၁ ရက်နေ့စွဲပါ အမိန့်ကြော်ငြာစာ ၁၃/၂၀၁၇ အရ ဦးစားပေး မြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှု ကဏ္ဍ တွင်ပါဝင်ပြီး ISIC 1061 တွင်ပါဝင်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ရန်ကုန်တိုင်းဒေသကြီး၊ ထန်းတပင်မြို့နယ်တွင် ဆောင်ရွက်မည်ဖြစ်၍ ဖွံ့ဖြိုးတိုးတက်မှုဇုန်(၃) တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၂/ခ-၀၄၅/၂၀၂၀( ၈၈၅ )

ရက်စွဲ ၊ ၂၀၂၀ ခုနှစ် ဇန်နဝါရီလ ၇ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့

တင်ပြသည့်အမှာစာ

အကြောင်းအရာ။ ရာခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Shu San Industry Company Limited (ရှုစန် စက်မှုလက်မှုထုတ်လုပ်ရေးကုမ္ပဏီ လီမိတက်) မှ ဆန်ကြိတ်ခွဲ ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုလွှာ တင်ပြလာခြင်း ကိစ္စ

၁။ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Shu San Industry Company Limited (ရှုစန် စက်မှုလက်မှု ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်) မှ ဦးပိုင်အမှတ်-၄/က၊ ကွင်းအမှတ်- ၂၉၂-A၊ ကုလားမှိုင်းမြောက်ကွင်း၊ ဝါးတရာကျေးရွာအုပ်စု၊ ထန်းတပင်မြို့နယ်၊ မြောက်ပိုင်းခရိုင်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်း မြေဧရိယာ၇.၉၈ ဧက အနက်မှ ၅.၁၃ ဧက တွင် ဆန်ကြိတ်ခွဲ ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုချက် တင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ မြေအထောက်အထားအဖြစ် Shu San Industry Company Limited (ရှုစန် စက်မှုလက်မှု ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်) ၏ အုပ်ချုပ်မှုဒါရိုက်တာ နှင့် ရှယ်ယာရှင် တစ်ဦးဖြစ်သည့် ဦးစန်ဝင်း ၏ မြေပိုင်ဆိုင်မှု အထောက်အထား များ နှင့် လယ်ယာမြေအား အခြားနည်းဖြင့် အသုံးပြုခွင့်ပြုမိန့် (ပုံစံ-၁၅)၊ မြေစာရင်းပုံစံ ၁၀၅၊ ၁၀၆၊ ဦးစန်ဝင်းပိုင် မြေအား ရင်းနှီးမြှုပ်နှံမှု ဆောင်ရွက်ရန် ဒါရိုက်တာအဖွဲ့မှ သဘောတူကြောင်း ဆုံးဖြတ်ထားသည့် ဒါရိုက်တာအဖွဲ့ အစည်းအဝေးမှတ်တမ်း၊ လုပ်ငန်းအတွက် အသုံးပြုရန် ဆိပ်ခံတံတား တည်ဆောက်ခွင့်အား ရန်ကုန်တိုင်းဒေသကြီးဦးစီးမှူးရုံး၊ ရေအရင်းအမြစ်နှင့် မြစ်ချောင်းများ ဖွံ့ဖြိုးတိုးတက်ရေး ဦးစီး ဌာနသို့ လျှောက်ထားစာမိတ္တူ၊ စက်ရုံတည်နေရာနှင့် စက်ရုံ Layout Plan များ တင်ပြထား ပါသည်။

၃။ အဆိုပြုလုပ်ငန်း၏ တည်ဆောက်ရေးကာလမှာ ၂ နှစ် ကြာမြင့်မည်ဖြစ်ကြောင်း တင်ပြ ထားပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်းပမာဏမှာ ကျပ် ၁၀,၈၁၁.၅၆ သန်း (US$ ၄.၈၅၁ သန်း အပါအဝင်) ဖြစ်ပါသည်။ မတည်ငွေရင်း ထည့်ဝင်မှုများမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| ထည့်ဝင်သည့်အမျိုးအစား | US$/သန်း | ကျပ်/သန်း | စုစုပေါင်း (ကျပ်/သန်း) |
|---|---|---|---|
| ငွေသား | - | ၃၀၀.၀၀၀ | ၃၀၀.၀၀၀ |
| စက်ပစ္စည်း (ပြည်ပ) | ၃.၇၂၇ | - | ၅,၇၄၇.၄၅၀ |
| အဆောက်အအုံသုံးပစ္စည်း(ပြည်ပ) | ၀.၅၁၂ | - | ၇၉၀.၀၄၂ |
| အဆောက်အအုံသုံးပစ္စည်း(ပြည်တွင်း) | | ၁,၇၉၅.၈၁၄ | ၁,၇၉၅.၈၁၄ |
| ဆိပ်ကမ်းဆောက်လုပ်ရေးသုံးပစ္စည်း (ပြည်ပ) | ၀.၀၄၈ | - | ၇၄.၉၄၄ |
| ဆိပ်ကမ်းဆောက်လုပ်ရေးသုံးပစ္စည်း(ပြည်တွင်း) | - | ၁၉၈.၀၂၉ | ၁၉၈.၀၂၉ |
| လုပ်ငန်းသုံးရေယာဉ် | ၀.၅၆၃ | - | ၈၆၈.၂၀၆ |
| ရုံးအဆောက်အဦ နှင့် ပရိဘောဂ (ပြည်တွင်း) | - | ၁၁.၀၇၅ | ၁၁.၀၇၅ |
| မြေ | - | ၁,၀၂၆.၀၀၀ | ၁၀၂၆.၀၀၀ |
| စုစုပေါင်း | ၄.၈၅၁ | ၃,၃၃၀.၉၁၈ | ၁၀,၈၁၁.၅၆၁ |

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပြည်တွင်းဝန်ထမ်း ၁၈၈ ဦး ခန့်ထားမည်ဖြစ်ပြီး၊ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ် ၃၀၀,၀၀၀ ဖြစ်ပြီး အမြင့်ဆုံးလစာမှာ ကျပ် ၁,၀၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းများမှာ ပြည်ပမှ တင်သွင်းလာသည့် စက်ပစ္စည်းများ တပ်ဆင်ခြင်းနှင့် ပြည်တွင်းဝန်ထမ်းများအား လေ့ကျင့် သင်ကြားပေးရန်အတွက် ခေတ္တလာရောက်ခြင်းဖြစ်ပါသည်။

၆။ အဆိုပြုလုပ်ငန်းမှာ ဆန်ဖြူနှင့် ဆန်ထွက်ပစ္စည်းများ ထုတ်လုပ်မည်ဖြစ်ပါသည်။ ဆန်ဖြူများကို ပြည်ပသို့တင်ပို့မည်ဖြစ်ပြီး ကျန်ဘေးထွက်ပစ္စည်းများကို ပြည်တွင်းတွင် ရောင်းချမည်ဖြစ်ပါသည်။

နောက်ဆက်တွဲ-က

၇။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားထားပါသည်-

(က) ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနမှ အဆိုပြုလုပ်ငန်းမှ လျှောက်ထားသည့် ၇.၉၈ ကေအနက်မှ ၂.၈၄၅ ကေသည် ရေအရင်းအမြစ်နှင့် မြစ်ချောင်းများ ဖွံ့ဖြိုးတိုးတက်ရေး ဦးစီးဌာန၏ စီမံပိုင်ခွင့် ရှိသော ကမ်းနားဒေသ ပေ ၁၅၀ အတွင်း ပါဝင်နေပါသဖြင့် အခြားနည်းသုံးစွဲခွင့်ပြုထားခြင်းအား ခွင့်မပြုကြောင်း သဘောထား ပြန်ကြားလာခြင်းအား ကုမ္ပဏီမှ အဆိုပါ ၂.၈၄၅ ကေကို နုတ်ပယ်၍ ၅.၁၃ ကေ ဖြင့် အဆိုပြုလွှာ ပြင်ဆင်ပြီးဖြစ်ပါသည်။ နောက်ဆက်တွဲ-ခ

(ခ) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ရုံးမှ အဆိုပြုလုပ်ငန်းနှင့် စပ်လျဉ်း၍ ကန့်ကွက်ရန် မရှိကြောင်း သဘောထားပြန်ကြားလာပါသည်။ နောက်ဆက်တွဲ-ဂ

(ဂ) ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဦးစီးဌာနမှ မှ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment- EIA) ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကို ရေးဆွဲတင်ပြရမည် ဖြစ်ကြောင်းသဘောထား ပြန်ကြားလာပါသည်။

ဆောင်ရွက်ပြီး ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ကို ရေးဆွဲတင်ပြရမည် ဖြစ်ကြောင်းသဘောထား ပြန်ကြားလာပါသည်။

နောက်ဆက်တွဲ-ဃ

၈။ ငွေကြေးအထောက်အထားအဖြစ် Shu San Industry Co., Ltd. အမည်ဖြင့် မြန်မာနိုင်ငံရှိ KBZ Bank တွင် ၃၀-၁-၂၀၁၉ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၀.၅၀၀ သန်းနှင့် ၃၀-၄-၂၀၁၉ ရက်စွဲဖြင့် ကျပ်ငွေ ၆,၅၆၁,၁၉၅,၇၇၉.၆၄ ကျပ်ရှိကြောင်း အထောက်အထား တင်ပြ ထားပါသည်။

၉။ စက်ရုံ၌ အလုပ်သမားများအတွက် လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်နှင့် CSR အား အသားတင်အမြတ်ငွေ၏ ၂% ထားရှိဆောင်ရွက်မည့် အစီအစဉ်များ၊ ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်မည့် အစီအစဉ်များ ကိုလည်း တင်ပြထားပါသည်။

၁၀။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၉ ခုနှစ် ဇွန်လ ၁၀ ရက်နေ့တွင် ကျင်းပ ပြုလုပ်သည့် ၂၀/၂၀၁၉ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

စိစစ်တင်ပြချက်

၉။ အောက်ပါအတိုင်းစိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းသည် ဦးစားပေး မြှင့်တင်မည့် ရင်းနှီးမြှုပ်နှံမှုကဏ္ဍ တွင်ပါဝင်ပြီး ISIC 1061 တွင်ပါဝင်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းသည် ဖွံ့ဖြိုးတိုးတက်မှုဇုန်(၃) တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရ ပါသည်။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့် ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင် ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှု ရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

ဆုံးဖြတ်ရန်အချက်

၁၀။ ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Shu San Industry Company Limited (ရှူစန် စက်မှုလက်မှု ထုတ်လုပ်ရေး ကုမ္ပဏီလီမိတက်) မှ ဆန်ကြိတ်ခွဲ ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြလာခြင်း ကိစ္စနှင့် စပ်လျဉ်း၍ ခွင့်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(သန့်စင်လွင်၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

နောက်ဆက်တွဲ-က

Shu San Industry Company Limited

ထုတ်လုပ်မှုနှင့် ရောင်းဈေးနှုန်းများ

| စဉ် | အမျိုးအစား | ပြည်တွင်းရောင်း | | ပြည်ပတင်ပို့ | |
|---|---|---|---|---|---|
| | | အရေအတွက် (Bag) | ရောင်းဈေးနှုန်း (ကျပ်/Bag) | အရေအတွက် (Bag) | ရောင်းဈေးနှုန်း (US$/ Bag) |
| (က) | ဆန်ဖြူ | - | - | ၅၇၆,၀၀၀ | ၂၀ |
| (ခ) | ခါးပိုင်းကျိုး | ၁၆၈,၀၀၀ | ၁၉,၀၀၀ | - | - |
| (ဂ) | ၁-၂ ဆန်လပ် | ၄၈,၀၀၀ | ၁၆,၃၀၀ | - | - |
| (ဃ) | ၂.၃.၄ ဆန်ကွဲ | ၁၂,၀၀၀ | ၁၆,၀၀၀ | - | - |
| (င) | ဖွဲဆန်ကွဲ | ၁၂.၀၀၀ | ၁၆.၆၀၀ | - | - |
| (စ) | ဖွဲနု | ၈၀,၀၀၀ | ၆,၉၀၀ | - | - |

နောက်ဆက်တွဲ-ခ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
# ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန
# ဝန်ကြီးရုံး

စာအမှတ်၊ ပဆ-(၃)/(သဘောထား-DWIR)/(၁၂)

ရက်စွဲ ၊ ၂၀၁၉ ခုနှစ်၊ ဩဂုတ်လ ၁၉ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက် ။ (၁) မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂-၈-၂၀၁၉ ရက်စွဲပါ စာအမှတ်၊ မရက- ၂/ခ-၀၄၅/၂၀၁၉(၂၃၅)

(၂) ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ ၁၆-၃-၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ၁၅/ လယ-၃၀ (၆၃၂/၂၀၁၆) (စာမိတ္တူပူးတွဲ)

၁။ Shu San Industry Company Limited (ရှူစန် စက်မှုလက်မှုထုတ်လုပ်ရေးကုမ္ပဏီလီမိတက်) က ရာခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ဦးပိုင်အမှတ်- ၄/က၊ ကွင်းအမှတ်-၂၉၂-A၊ ကုလားမှိုင်းမြောက်ကွင်း၊ ဝါးတရာကျေးရွာအုပ်စု၊ ထန်းတပင်မြို့နယ်၊ မြောက်ပိုင်းခရိုင်၊ ရန်ကုန်တိုင်းဒေသကြီးအတွင်းရှိ စုစုပေါင်းမြေဧရိယာ (၇.၉၈) ဧကတွင် ဆန်များထုတ်လုပ်သန့်စင်သည့် လုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာသည့် ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်း (၁) ပါ စာဖြင့် အကြောင်းကြားလာသည့်ကိစ္စဖြစ်ပါသည်။

၂။ အဆိုပါ ကိစ္စနှင့်ပတ်သက်၍ ရေအရင်းအမြစ်နှင့် မြစ်ချောင်းများ ဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန၊ ဒေသ (၁)၊ ရန်ကုန်တိုင်းဒေသကြီးရုံးမှ ကွင်းဆင်းစိစစ်ချက်အရ Shu San Industry Co.,Ltd မှ လျှောက်ထားသည့် မြေနေရာအမျိုးအစားသည် ဦးစန်ဝင်းအမည်ဖြင့် လယ်ယာမြေလုပ်ပိုင်ခွင့် လက်မှတ်ရရှိထားပြီး အဆိုပါလယ်ယာမြေအား ဆန်စက်မြေအဖြစ် အသုံးပြုရန်အတွက် ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ လယ်မြေအားအခြားနည်းအသုံးပြုခွင့် ရရှိထားပြီးဖြစ်ပါကြောင်း ရည်ညွှန်း (၂) ပါစာအရ သိရှိရပါသည်။

၃။ လျှောက်ထားသည့်မြေနေရာ (၇.၉၈) ဧကသည် ထန်းတပင်မြို့နယ်၊ ဝါးတရာ အနောက်ကျေးရွာအောက်ဘက်၊ လှိုင်မြစ်အနောက်ဘက်ကမ်းတွင် တည်ရှိပြီး ရေအရင်းအမြစ်နှင့် မြစ်ချောင်းများ ဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန၏ စီမံခန့်ခွဲပိုင်ခွင့်ရှိသော ကမ်းနားဒေသ ပေ (၁၅၀) အတွင်း (၂.၈၄၅) ဧကပါဝင်နေကြောင်း စိစစ်တွေ့ရှိရပါသဖြင့် အဆိုပါ ကမ်းနားနယ် ပေ (၁၅၀) အတွင်းပါဝင်သည့် ဧရိယာ

(၂.၈၄၅) ဧကကို အခြားနည်းသုံးစွဲခွင့်ပြုထားခြင်းအား ခွင့်မပြုပါကြောင်း ညှိနှိုင်းပြန်ကြားအပ်ပါသည်။

၄။ ထို့အပြင် လျှောက်ထားလာသည့် မြေနေရာအပေါ်တွင် ဆန်ထုတ်လုပ် သန့်စင်သည့် လုပ်ငန်းဆောင်ရွက်ရာ၌ ဆိပ်ခံတံတား တည်ဆောက်အသုံးပြုမည်ဆိုပါက ရေအရင်းအမြစ်နှင့် မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန၏ ရေအရင်းအမြစ်နှင့် မြစ်ချောင်းများထိန်းသိမ်းရေးနည်းဥပဒေ (၇၄) အရ လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်လိုသူသည် လုပ်ငန်းဆောင်ရွက်မည့်နေရာ မြေပုံကြမ်း၊ တံတားတည်နေရာပြမြေပုံ၊ အဆိုပြု ဆိပ်ခံတံတား ဒီဇိုင်းပုံစံ အတိုင်းအတာများကို ပြည့်စုံစွာ ဖြည့်စွက်ဖော်ပြ၍ သတ်မှတ်ပုံစံ (၆) ဖြင့် ရေအရင်းအမြစ်နှင့် မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာနသို့ လုပ်ငန်းခွင့်ပြုချက် ရယူလျှောက်ထားရမည်ဖြစ်ပါသည်။ ထိုသို့လျှောက်ထားမှုအပေါ် သက်ဆိုင်ရာ ရေအရင်းအမြစ်နှင့် မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန တိုင်းဒေသကြီး၊ ပြည်နယ် ရုံးများမှ ကွင်းဆင်းစိစစ်ပြီး ခွင့်ပြုနိုင်ပါက (၃) နှစ် ခွင့်ပြုချက်သက်တမ်းဖြင့် တစ်နှစ်ချင်းအလိုက် သတ်မှတ်အခွန်အခများ ပေးသွင်းစေပြီး နည်းဥပဒေ ၇၆ (က) အရ ရေအရင်းအမြစ်နှင့် မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာနက လုပ်ငန်းခွင့်ပြုမိန့် ထုတ်ပေးမည်ဖြစ်ပါသည်။

၅။ သို့ဖြစ်ပါ၍ ရန်ကုန်တိုင်းဒေသကြီး (မြောက်ပိုင်းခရိုင်)၊ ထန်းတစ်ပင်မြို့နယ်၊ ဝါးတရာကျေးရွာအုပ်စု၊ ကုလားမှိုင်းမြောက်ကွင်း၊ ကွင်းအမှတ် (၂၉၂-အေ)၊ ဦးပိုင်အမှတ်(၄-က)၊ လှိုင်မြစ်အနီးရှိ မြေရိယာ (၇.၉၈) ဧကတွင် ဆန်ထုတ်လုပ်သန့်စင်သည့်လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် Shu San Industry Co.,Ltd မှ တင်ပြလာသည့် ကိစ္စနှင့်ပတ်သက်၍ ရေအရင်းအမြစ်နှင့် မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန၏ စီမံခန့်ခွဲပိုင်ခွင့်ရှိသော ကမ်းနားနယ်အတွင်း လုပ်ငန်းများဆောင်ရွက်မည်ဆိုပါက ရေအရင်းအမြစ်နှင့်မြစ်ချောင်းများ ဖွံ့ဖြိုးတိုးတက်ရေး ဦးစီးဌာန၏ သဘောတူခွင့်ပြုချက် ရယူဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း အကြောင်းပြန်ကြားအပ်ပါသည်။

(ပုံ)

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
ဝင်းခန့် - အမြဲတမ်းအတွင်းဝန်

မိတ္တူကို-

- ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့
- ရေအရင်းအမြစ်နှင့် မြစ်ချောင်းများဖွံ့ဖြိုးတိုးတက်ရေးဦးစီးဌာန
- ရုံးလက်ခံ
- မျှောစာတွဲ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ

ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့

စာအမှတ်၊ ၁၅/ လယ-၃၀ ( ၆ ၃ ၂ / ၂၀၁၆)

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ မတ်လ (၁၆) ရက်

အကြောင်းအရာ။ လယ်မြေအား အခြားနည်းဖြင့် အသုံးပြုရန် ခွင့်ပြုမိန့် (ပုံစံ-၁၅) များ ပေးပို့ခြင်း

၁။ ဦးစန့်ဝင်းမှ ရန်ကုန်တိုင်းဒေသကြီး၊ မြောက်ပိုင်းခရိုင်၊ ထန်းတပင်မြို့နယ်၊ ဝါးတရာ ကျေးရွာအုပ်စု၊ ကွင်းအမှတ် (၂၉၂A)၊ ကုလားမှိုင်းမြောက်ကွင်းအတွင်းရှိ လယ်မြေဧရိယာ (၇.၉၈) ဧကကို အခြားနည်းဖြင့် အသုံးပြုရန် လျှောက်ထားလာမှုအပေါ် ရန်ကုန်တိုင်းဒေသကြီး လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ စိစစ်ထောက်ခံချက်ဖြင့် ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့သို့ ပေးပို့ တင်ပြလာပါသည်။

၂။ လယ်ယာမြေကို အခြားနည်းဖြင့် အသုံးပြုရန် လျှောက်ထားချက်နှင့်စပ်လျဉ်း၍ လယ်ယာမြေ ဥပဒေပုဒ်မ ၃၀ (က) အရ ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့၏ (၄.၃.၂၀၁၆) ရက်နေ့ အစည်းအဝေး အမှတ်စဉ် (၁၃/ ၂၀၁၆) ဆုံးဖြတ်ချက်အပိုဒ် ၁ ၊ အပိုဒ်ခွဲ (ဂ) အရ ခွင့်ပြုရန် သဘောတူပြီး ဖြစ်ပါသဖြင့် လယ်မြေအား အခြားနည်းဖြင့် အသုံးပြုရန် ခွင့်ပြုမိန့်(ပုံစံ-၁၅)ကို ဤစာနှင့်အတူ ပူးတွဲလျက် ပေးပို့ပါသည်။

၃။ သို့ဖြစ်ပါ၍ လယ်ယာမြေအား အခြားနည်း အသုံးပြုခွင့် ရရှိသူအနေဖြင့် လုပ်ငန်းအမျိုးအစား အား ဥပဒေနှင့်ညီညွတ်စွာ ဖိုင်ရိုင်းဖော လုပ်ဆောင်သွားရန်၊ မူလအဆိုပြုလုပ်ငန်းကိုသာ ဆောင်ရွက် သွားရန်၊ မူလတင်ပြ လုပ်ငန်းမှအပ အခြားလုပ်ငန်း လွှဲပြောင်းဆောင်ရွက်ခြင်းမပြုရန်၊ ခွင့်ပြုသည့် နေ့ရက်မှ (၆) လအတွင်း သတ်မှတ်သည့် နည်းလမ်းအတိုင်း စတင်အသုံးပြုရန်၊ လယ်ယာမြေ ဥပဒေပုဒ်မ ၃၁၊ နည်းဥပဒေ ၉၁ ပါပြဋ္ဌာန်းချက်များနှင့်အညီ တိကျစွာ လိုက်နာဆောင်ရွက်သွားရန် နှင့် သက်ဆိုင်ရာ လယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့ အဆင့်ဆင့်မှ အထက်ဖော်ပြပါ လယ်ယာမြေဥပဒေ၊ နည်းဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ စိစစ်ဆောင်ရွက်သွားရန်ဖြစ်ကြောင်း၊ လက်ရှိမြေပြင်တွင် (၆)လ အတွင်း လုပ်ငန်းအမှန်တကယ် အကောင်အထည်ဖော် ဆောင်ရွက်ထားရှိမှု အခြေအနေအား ဓာတ်ပုံ မှတ်တမ်းများနှင့်အတူ စိစစ်ပြီး ပြန်လည်တင်ပြသွားရန် အကြောင်းကြားအပ်ပါသည်။

သတိုးအောင်

အတွင်းရေးမှူး

ဗဟိုလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့

ဦးစန့်ဝင်း

မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

မိတ္တူ။

ရန်ကုန်တိုင်းဒေသကြီးလယ်ယာမြေစီမံခန့်ခွဲမှုအဖွဲ့
ရန်ကုန်တိုင်းဒေသကြီးလယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
မြောက်ပိုင်းခရိုင်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန
ထန်းတပင်မြို့နယ်လယ်ယာမြေစီမံခန့်ခွဲရေးနှင့်စာရင်းအင်းဦးစီးဌာန (မြေအသုံးချမှုစာရင်းများ၊ စာရင်းမြေပုံတွင် ပြောင်းလဲမှတ်သားနိုင်ရန် အကြောင်းကြားချက်ဖြင့် ပေးပို့ပါသည်။)
လက်ခံ။

နောက်ဆက်တွဲ-ဂ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
တိုင်းဒေသကြီးအစိုးရအဖွဲ့
ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ဖ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ စက်တင်ဘာလ ၂၃ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၃.၈.၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက - ၂ / ခ - ၀၄၅/ ၂၀၁၉ (၂၃၈-က)

၁။ ရခိုင်နှုန်းပြည့်မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Shu San Industry Company Limited (ရှုစန်စက်မှုလက်မှုထုတ်လုပ်ရေးကုမ္ပဏီလီမိတက်) မှ ဦးပိုင်အမှတ်-၄/က၊ ကွင်းအမှတ်-၂၉၂-A၊ ကုလားမှိုင်းမြောက်ကွင်း၊ ဝါးတစ်ရာကျေးရွာအုပ်စု၊ ထန်းတပင်မြို့နယ်၊ ရန်ကုန်မြောက်ပိုင်းခရိုင်ရှိ စုစုပေါင်းမြေဧရိယာ ၇.၉၈ ဧကတွင် ဆန်များ ထုတ်လုပ်သန့်စင်သည့်လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့် ပြုပါရန်တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့်ညှိနှိုင်းလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ၁၉.၉.၂၀၁၉ ရက်နေ့တွင် ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၃၇/၂၀၁၉)၊ ဆုံးဖြတ်ချက်အပိုဒ်(၅၄)အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

မိတ္တူကို
တိုင်းဒေသကြီးဦးစီးမှူး၊ ရန်ကုန်တိုင်းဒေသကြီးရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
ထန်းတပင်မြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
Shu San Industry Company Limited
လက်ခံစာတွဲ
မျှောစာတွဲ

D/2019/Cabinet 37(10)

နောက်ဆက်တွဲ-ဃ

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁ (၃၈ / ၁၉ )
ရက်စွဲ၊ ၂၀၁၉ ခုနှစ်၊ ဇွန်လ ၂၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

**အကြောင်းအရာ။** **Shu San Industry Company Limited မှ ဆန်များထုတ်လုပ်သန့်စင်သည့် လုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၄-၆-၂၀၁၉ ရက်စွဲပါစာအမှတ်၊ မရက -၂/ အ-၀၄၃/၂၀၁၉ (၁၆၀)

၁။ ရခိုင်နှုန်းပြည့် မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် Shu San Industry Company Limited (ရှုစန် စက်မှုလက်မှုထုတ်လုပ်ရေးကုမ္ပဏီလီမိတက်) မှ ဦးပိုင်အမှတ်- ၄/က၊ ကွင်းအမှတ်- ၂၉၂(အေ)၊ ကုလားမှိုင်းမြောက်ကွင်း၊ ဝါးတရာကျေးရွာအုပ်စု၊ ထန်းတပင်မြို့နယ်၊ မြောက်ပိုင်းခရိုင်၊ ရန်ကုန်တိုင်းဒေသကြီးရှိ စုစုပေါင်းမြေဧရိယာ ၇.၉၈ ဧက (၃၂,၂၉၃.၉၁ စတုရန်းမီတာ) တွင် ဆန်များထုတ်လုပ်သန့်စင်သည့်လုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီးသဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၃) နှစ် ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအားမြေ (၃၂,၂၉၃.၉၁ စတုရန်းမီတာ) တွင် လိုအပ်သော အဆောက်အဦများ၊ ကုန်ကြမ်း၊ ကုန်ချော အတင်အချ ပြုလုပ်ရန်အတွက် ဆိပ်ခံတံတား စသည်တို့ တည်ဆောက်ကာ လုပ်ငန်းများ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် တန်ချိန် (၅) သောင်းကျော်နှင့် (၁၀) နှစ်အတွင်း တန်ချိန် (၁) သိန်းကျော်အထိ တိုးမြှင့်ကြိတ်ခွဲကာ လုပ်ငန်းများဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဃ) ဝန်ထမ်းများသက်သာချောင်ချိရေးအစီအစဉ်များ၊ မီးဘေးကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(င) လုပ်ငန်းမှရရှိလာမည့်အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင် ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(စ) သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှ ထုတ်ပြန်ထားသောဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံး/လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာဆောင်ရွက်သွားမည် ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) Shu San Industry Company Limited မှ ဆန်များထုတ်လုပ်သန့်စင်သည့်လုပ်ငန်းအတွက် အဆောက်အဦများ တည်ဆောက်ရာ၌ မြေပြုပြင်ခြင်းနှင့် ဆောက်လုပ်ရေးလုပ်ငန်းခွင်မှ ထွက်ရှိလာမည့် ဖုန်မှုန့်များ၊ တုန်ခါမှုများ၊ လုပ်ငန်းသုံး ယာဉ်/ယန္တရားများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီ၊ အခိုးအငွေ့များကြောင့် အနီးပတ်ဝန်းကျင်ရှိလေထု၊ မြေထုနှင့် ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်ခြင်း၊

(ခ) တည်ဆောက်လုပ်ငန်းသုံး ယာဉ်ယန္တယားများနှင့် စက်ပစ္စည်းများမှ ထွက်ရှိလာမည့် စက်ဆီ၊ ချောဆီနှင့် စွန့်ပစ်ပစ္စည်းများကြောင့် ပတ်ဝန်းကျင်ရှိမြေထု၊ ရေထုနှင့် လေထု ညစ်ညမ်းခြင်း၊

(ဂ) အလုပ်သမားများ၏ စွန့်ပစ်ပစ္စည်းများနှင့် မိလ္လာအညစ်အကြေးများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းခြင်း၊

(ဃ) လုပ်ငန်းလည်ပတ်ရာတွင် လိုအပ်သည့်ရေအား စနစ်တကျ ထုတ်ယူသုံးစွဲမှုမရှိခြင်းကြောင့် မြေအောက်ရေအရည်အသွေးနှင့် မျက်နှာပြင် နိမ့်ကျခြင်း၊

(င) အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် စက်ရုံမှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်း အစိုင်အခဲများ၊ စပါးခွံများ၊ စက်ယန္တရားများမှ ထွက်ရှိလာမည့် စက်မောင်းဆီ ဖိတ်စင်မှုများစသည့် စွန့်ပစ်ပစ္စည်းအရည်များကို စနစ်တကျ စီမံခန့်ခွဲခြင်းမပြုပါက ပတ်ဝန်းကျင်ရေ၊ လေနှင့်မြေဆီလွှာ ထိခိုက်မှုများဖြစ်နိုင်ခြင်း၊ စက်ရုံလုပ်ငန်းခွင်မှ ထွက်ရှိလာနိုင်သော ဆူညံသံများ၊ ဖုန်မှုန့်များ၊ မီးခိုးများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုများဖြစ်ပေါ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာစေနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ Shu San Industry Company Limited မှ ဆန်များထုတ်လုပ်သန့်စင်သည့်လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာအချက်အလက်

များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းနှင့်စပ်လျဉ်း၍ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA)** ကို ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် (၄၉)၊ (၆၃) နှင့် အညီ ပြုစု ဆောင်ရွက်ရန်၊

(ဂ) ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၄၅၊ ၄၆ တို့အရစီမံကိန်းအဆိုပြုသူသည် ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းလုပ်ငန်း(Environmental Impact Assessment-EIA) မစတင်မီ အဆိုပါလုပ်ငန်းကို ဆောင်ရွက်မည့် တတိယပုဂ္ဂိုလ် (သို့မဟုတ်) အဖွဲ့အစည်းနှင့် စပ်လျဉ်း၍ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန၏ ဆုံးဖြတ်ချက် ရယူရန်၊

(ဃ) ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းအပိုဒ် ၅၇ မှ အပိုဒ် ၅၄ ထိဖော်ပြချက်အရ စီမံကိန်းအဆိုပြုသူသည် နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်းအစီရင်ခံစာနှင့် ဆောင်ရွက်မည့် လုပ်ငန်းတာဝန်များကို လမ်းညွှန်ချက်များနှင့်အညီ လေ့လာဆန်းစစ်ပြုစု၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာနသို့ တင်ပြ အတည်ပြုချက် ရယူရန်၊

(င) အတည်ပြုပြီးသော နယ်ပယ်အတိုင်းအတာ သတ်မှတ်ခြင်း အစီရင်ခံစာပါအချက်များအပေါ်အခြေခံ၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း အပိုဒ် (၆၃) ပါအချက်များနှင့်အညီ **ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းအစီရင်ခံစာ (EIA)** ကိုဆောင်ရွက်ပြီး သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာနသို့ ရေးဆွဲ တင်ပြရန်၊

(စ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဆ) ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်နှင့် တင်ပြရမည့် အစီအစဉ်အလိုက် လိုအပ်သည့် ပုံစံများ ဖြည့်စွက်၍ တစ်ပါတည်း တင်ပြရန်၊

(ဇ) သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူ ဆောင်ရွက်ရန်၊

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင် (ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို
ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ